



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၉၁၄...... / ၂၀ ၁၃ ။ ၂၀ ၁၃ ခုနှစ်၊ မေ လ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဦးဝင်းကိုလတ် (ခ) ဦးဇော်မိုင်း

(ခ) အဘ အမည် ...... ဦးဖိုးလစ်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၂ /လမန (နိုင်) ၁၂၄၁၉၈

(ဃ) နေရပ်လိပ်စာ ...... အမှတ်(၂/စီ)၊ အေဝမ်းကွန်ဒို၊ အေဝမ်းလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... Chan Yin Industries Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ (၁၁)လမ်း၊ မြေကွက်အမှတ်(၂၂၈၊ ၂၂၉၊ ၂၃၀၊ ၂၃၁)ရှိမြေ (၇.၉၃၂)ဧက ~~အနက်မြေကွက်အမှတ်(၂၂၈၊၂၂၉)ရှိမြေ(၂.၂)ဧကခန့်~~

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၃၅၉၂.၈၅ (သန်း) (အမေရိကန်ဒေါ်လာ(၃.၅၅)သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးထောင် ငါးရာ ကိုးဆယ့် နှစ်သန်း နှင့် ရှစ်သိန်း ငါးသောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၅၁ /၂၀၁၃(မနသ)

၂၀၁၃ ခုနှစ် မေ လ ၃၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Chan Yin Industries Co., Ltd. သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးအိုက်ဆိုက်နှင့် ဒေါ်ရင်ရှင်းမေ တို့အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ (၁၁)လမ်း၊ မြေကွက်အမှတ်(၂၂၈၊၂၂၉၊ ၂၃၀၊၂၃၁)ရှိ မြေ(၇.၉၃၂)ဧကအနက် မြေကွက်အမှတ်(၂၂၈/၂၂၉)ရှိမြေ (၂.၂)ဧကအား ငှားရမ်း၍ စက်ရုံတည်ဆောက်ပြီး ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၂-၅-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Chan Yin Industries Co., Ltd. အား နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေး ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၁၄/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Chan Yin Industries Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထား များကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

~~(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်~~ သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Chan Yin Industries Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Chan Yin Industries Co., Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေပိုင်ရှင် ဦးအိုက်ဆိုက်၊ ဒေါ်ရင်ရှင်းမေ နှင့် Chan Yin Industries Co., Ltd. တို့ချုပ်ဆိုမည့် မြေငှါးစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ Chan Yin Industries Co., Ltd. သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်း ဆိုင်ရာတို့ နှင့်စပ်လျဥ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ Chan Yin Industries Co., Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဥ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၀။ Chan Yin Industries Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Chan Yin Industries Co., Ltd. သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၂။ Chan Yin Industries Co., Ltd. သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းအမှတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Chan Yin Industries Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်း စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၃၁၄/၂၀၁၃ (၆၂၀၀ – င)

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မေ လ ၃၀ ရက်

ဖြန့်ဝေခြင်း-

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

၆

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း ၊ ရန်ကုန်မြို့

မန်နေဂျင်းဒါရိုက်တာ ၊ Chan Yin Industries Co., Ltd.






ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၉၁၄...... / ၂၀ ၁၃ ။ ၂၀ ၁၃ ခုနှစ်၊ မေ လ ၃၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးဝင်းကိုလတ် (ခ) ဦးဇန်မိုင်း......

(ခ) အဘ အမည် ......ဦးဖိုးလစ်......

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂ /လမန (နိုင်) ၁၂၄၁၉၈......

(ဃ) နေရပ်လိပ်စာ ......အမှတ်(၂/စီ)၊ အေဝမ်းကွန်ဒို၊ မအေဝမ်းလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......Chan Yin Industries Co., Ltd.......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ (၁၁)လမ်း၊ မြေကွက်အမှတ်(၂၂၈၊ ၂၂၉၊ ၂၃၀၊ ၂၃၁)ရှိမြေ (၇. ၉၃၂)ဧက အနက်မြေကွက်အမှတ်(၂၂၈၊ ၂၂၉)ရှိမြေ(၂.၂)ဧကခန့်......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၃၅၉၂.၈၅ (သန်း) (အမေရိကန်ဒေါ်လာ(၃.၅၅)သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးထောင် ငါးရာ ကိုးဆယ့် နှစ်သန်း နှင့် ရှစ်သိန်း ငါးသောင်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်"

⌖⌖⌖⌖⌖⌖⌖⌖

**PROPOSAL OF THE INVESTOR FOR MAKING INVESTMENT BY MYANMAR CITIZENS IN THE REPUBLIC OF THE UNION OF MYANMAR**

# "CHAN YIN INDUSTRIES COMPANY LIMITED"



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ် လ (  ) ရက်

အကြောင်းအရာ။ ။ ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီဆောက်လုပ်ရေးပစ္စည်းမျိုးစုံထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၃-၂၀၁၃ ရက်စွဲပါစာအမှတ်။
၇က-၆(က)။မ-၁၃၁၄။၂၀၁၃(၃၁၉၆)

လူကြီးမင်းခင်ဗျား၊

ကျွန်တော်တို့၏ ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်မှ ၁၉-၂-၂၀၁၃ ရက်စွဲဖြင့်တင်ပြခဲ့သော အဆိုပြု လွှာအား ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ (၉၊၂၀၁၃) (၂၈-၂-၂၀၁၃) အစည်းအဝေးမှ စိစစ်မှုပြုလုပ်ခဲ့ပြီး အဆိုပြုချက်နှင့်စပ်လျဉ်း၍ လိုအပ်ချက်များအား ရည်ညွှန်းချက်ပါစာဖြင့် ပြန်လည်တင်ပြပေးရန် ညွှန်ကြားလာပါသဖြင့် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် အဆိုပါလိုအပ်ချက်များအား ညွှန်ကြားချက်နှင့်အညီပြုစုပြီး စာနှင့်အတူ ပြန်လည်တင်ပြပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11" street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

၁။ ပရိဘောဂနှင့်ကိရိယာတန်ဆာပလာများနှင့် လုပ်ငန်းသုံးယာဉ်များကို ပြည်တွင်းဝယ်အနေဖြင့် ပြန်လည် ပြင်ဆင်၍ဖော်ပြပေးထားပါသည်။

၂။ အဆိုပြုလုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သည့် မြေကွက်နှင့် မြေဧကကို တိတိကျကျဖော်ပြမည့် မြေငှားစာချုပ်တွင် ပြင်ဆင်တင်ပြပေးထားပါသည်။

၃။ ပြည်ပမှ နှစ်စဉ်ကုန်ကြမ်းများ ဝယ်ယူရန်အတွက် နိုင်ငံခြားငွေရယူမှုအစီအစဉ်ကို နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြပေးထားပါသည်။

၄။ ပါတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) စီမံချက်ကို နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြပေးထားပါသည်။

၅။ ကုမ္ပဏီမှ ဝန်ထမ်းများ၊ လစာငွေ တစ်နှစ်လျှင် ကျပ် (၁,၄၄၀,၀၀၀) နှင့်အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း ကုမ္ပဏီမှ ပေးဆောင်ပေးသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်ကို နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြပေးထားပါသည်။

၆။ ပြည်ပမှ စက်ပစ္စည်းနှင့် ကနဦးကုန်ကြမ်းများတင်သွင်းရန်အတွက် လုံလောက်သည့် နိုင်ငံခြားငွေ အထောက်အထားကို ပူးတွဲတင်ပြပေးထားပါသည်။

၇။ မနသ ပုံစံ-၁(၈-က)တွင် ကနဦး ကုန်ကြမ်းတန်ဖိုးကို တင်ပြပေးထားပါသည်။

၈။ Annex-5 တွင် ဖော်ပြထားသော လျှပ်စစ်ပစ္စည်းတန်ဖိုး။ Annex 7, Annex 7-A, Annex 8, Annex 8A တို့တွင် ဖော်ပြထားသော ကနဦးကုန်ကြမ်းနှင့် နှစ်စဉ်ကုန်ကြမ်းစာရင်းအား ပြန်လည်စီစစ်ထားပြီး ဖြစ်ပါသည်။

၉။ Annex-11 တွင်ဖော်ပြထားသော နှစ်စဉ်ထုတ်လုပ်မှုအရေအတွက်။ Annex 11-A တွင်ဖော်ပြထားသော နှစ်စဉ်ထုတ်လုပ်မှုအတွက် ပြန်လည်စီစစ်ထားပြီးဖြစ်ပါသည်။

Overhead စာရင်းမှာ နှစ်စဉ်ဝင်ငွေ၊ ၁% နှုန်းကုန်ကျမည်ဟုခန့်မှန်းထားပြီး Miscellaneous စာရင်းမှာ အထွေထွေအသုံးပြုနိုင်ရန်အတွက် ခန့်မှန်းဖော်ပြထားခြင်းဖြစ်ပါသည်။

# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyinindustries.com

သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)။ နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ်။ လ။ ( )ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မသို့ အဆိုပြုချက်ပေးပို့ခြင်း။

Your Excellency,

ကျွန်တော်တို့၏ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်"သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေးပစ္စည်းမျိုးစုံ ထုတ်လုပ်သည့် လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံလုပ်ကိုင်နိုင်ရန် အဆိုပြုချက် (၁၅) စုံကို ဤစာနှင့်အတူ ပူးတွဲပေးပို့ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11" street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyinindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။၂၀၁၃ ခုနှစ်၊ ( )ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၀) အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) နှင့်(၁၃)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း၊

Your Excellency,

၁။ ကျွန်တော်တို့ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ၊ အများနှင့်မသက်ဆိုင်သောကုမ္ပဏီကို တည်ထောင်ထားပြီး ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်ရောင်းချနိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၀) အရ ခွင့်ပြုမိန့်ကို ထုတ်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားအပ်ပါသည်။

၂။ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" သည် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ထုတ်ပေးသော ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ်-၁၄၈၃၊၂၀၁၂-၂၀၁၃ (၁၇-၇-၂၀၁၂) ရက်စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင် ဖွဲ့စည်းထားပြီးဖြစ်ပါသည်။ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ကုမ္ပဏီသင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းစသည့်အထောက်အထား စာရွက်စာတမ်း မိတ္တူများကို ပူးတွဲတင်ပြအပ်ပါသည်။

၃။ ကုမ္ပဏီငွေကြေးခိုင်မာမှုနှင့်စပ်လျဉ်းပြီး မြန်မာကျပ်ငွေအတွက် ကမ္ဘောဇဘဏ်တွင် စာရင်းဖွင့်လှစ်ထားသည့် ဘဏ်စာရင်း မိတ္တူနှင့် အမေရိကန်ဒေါ်လာအတွက် မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ် (MFTB) ဘဏ်တွင် စာရင်းဖွင့်လှစ်ထားသည့် ဘဏ်စာရင်း မိတ္တူကို ပူးတွဲတင်ပြအပ်ပါသည်။

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637659, 09-73810062
www.changyinindustries.com



၄။ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၅၀၀,၀၀၀,၀၀၀ နှင့် အမေရိကန်ဒေါ်လာ ၃,၅၉၄,၀၈၃ ဖြစ်ပါသည်၊ လုပ်ငန်းအတွက်အသုံးပြုမည့် လိုအပ်သည့် စက်ပစ္စည်းကိရိယာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ပြည်ပမှတင်သွင်းမည်ဖြစ်ပါသည်။

၅။ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" သည် စုစုပေါင်းမြေအကျယ်အဝန်း (၄) ဧကရှိသော မြေကွက်အမှတ်-(၂၂၈၊၂၂၉)၊ (၁၁) လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် စက်ရုံငှားရမ်းကာ နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်သည့်စက်ရုံတည်ထောင်ကာ မြန်မာနိုင်ငံအတွင်း သွင်းကုန်အစားထိုး ဆောင်ရွက်ခြင်းဖြင့် နိုင်ငံခြားငွေထွက်ရှိမှု လျော့နည်းခြင်း၊ နိုင်ငံသားများ အလုပ်အကိုင်ရရှိမှု အခွင့်အလမ်းများပြားလာခြင်း၊ နိုင်ငံခြားနည်းပညာများ၊ တိုးတက်များပြားလာခြင်း များရရှိနိုင်မည်ဖြစ်ပါသည်၊ ကျွန်တော်တို့ ကုမ္ပဏီသည် ခေတ်မီစက်ပစ္စည်းများ၊ ခေတ်မီနည်းပညာများဖြင့် စက်ရုံတစ်ရုံဖြစ်အောင် အကောင်အထည်ဖော်သွားမည်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေကွက်အမှတ်-(၂၂၈၊၂၂၉)ပေါ်ရှိ စုစုပေါင်း အကျယ်အဝန်း (၂.၂)ဧကခန့်ရှိသောမြေကို ကုမ္ပဏီအစုရှယ်ယာဝင်များဖြစ်သော ဦးအိုက်ဆိုက်နှင့် ဒေါ်ရန်ရှင်းမေထံမှ တစ်နှစ်လျှင် ကျပ် ၂၀,၄၀၀,၀၀၀ဖြင့်ငှားရမ်း၍ စက်ရုံတည်ဆောက်ကာလုပ်ငန်းများ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၇။ ကျွန်တော်တို့ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တည်ထောင်ထားပြီး ကုမ္ပဏီ ရုံးခန်းကိုလည်း စက်ရုံဝင်းအတွင်းပင် ဖွင့်လှစ်ရန် စီစဉ်ထားပါသည်။

၈။ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" အဆိုပြုချက်အပေါ် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) နှင့် (၁၃) အရအောက်ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

(က) စီးပွားရေးလုပ်ငန်းတစ်ခုခု၏ ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေပါဝင်ပါက ယင်းနိုင်ငံခြားငွေပမာဏအပေါ်မူတည်၍ သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်။

(ခ) စီးပွားရေးလုပ်ငန်းတစ်ခုခုက ထုတ်လုပ်သည့်ပစ္စည်းကို နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှဖြစ်စေ၊ ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခုမှဖြစ်စေ သတ်မှတ်သည့်နိုင်ငံခြားငွေရရှိလျှင် ထိုသို့ရရှိသည့်အမြတ်ငွေ အပေါ်တွင် ကာလအကန့်အသတ်ဖြင့် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့်။

(ဂ) နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းသောစီးပွားရေးလုပ်ငန်းဖြစ်ပြီး ကုန်ထုတ်လုပ်မှုကြောင့်ဖြစ်စေ၊ ဝန်ဆောင်မှုလုပ်ငန်းကြောင့်ဖြစ်စေ သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်။

(ဃ) စီးပွားရေးလုပ်ငန်းသည် သွင်းကုန်အစားထိုးလုပ်ငန်း၊ နိုင်ငံတော်အတွက် အဓိကလိုအပ်သည်ဟု သတ်မှတ်သည့် ကုန်ထုတ်လုပ်မှုလုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး အကျိုးအမြတ် အနည်းအငယ်ဖြင့် ဆောင်ရွက်သည့် စီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကို သတ်မှတ်ချက်နှင့်အညီ သင့်လျော်သောကာလအထိ ခံစားခွင့်။

(င) နည်းပညာရပ်များကိုအသုံးပြုပြီး အဆင့်မြင့်နည်းပညာရပ်များ ဖွံ့ဖြိုးတိုးတက်စေရန် ဆောင်ရွက်သော စီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကို သတ်မှတ်ချက်နှင့်အညီ သင့်လျော်သောကာလ အထိ ခံစားခွင့်။

(စ) စီးပွားရေးလုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန် သီးသန့်ရန်ပုံငွေထား၍ ၁ နှစ် အတွင်း ယင်းလုပ်ငန်း၏ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ် ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(ဆ) ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ၊ပစ္စည်းတန်ဖိုးလျော့ငွေကို သတ်မှတ်ထားသည့်နှုန်းထားများအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှနုတ်ပယ်ခွင့်။

(ဇ) သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ရရှိနိုင်သည့် အမှန်တကယ် အသုံးပြုရန်လိုအပ်၍ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကရိယာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်း များအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com



(ဈ) သတ်မှတ်ထားသည့်ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ ၃ နှစ်အတွက် ကုန်ထုတ်လုပ်ရန် ကော်မရှင်က တင်သွင်းခွင့်ပြုသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည် တွင်းအခွန် အကောက်များဖြစ်စေ။ နှစ်မျိုးလုံးဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(ည) ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့်ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(ဋ) ကော်မရှင်က သတ်မှတ်သည့်ဝေးလံခေါင်းပါးဒေသ ဖွံ့ဖြိုးတိုးတက်ရေးကို အဓိက အထောက်အကူပြုသော စီးပွားရေးလုပ်ငန်းဖြစ်ပါက ဝင်ငွေခွန်သက်သာခွင့်ကို သတ်မှတ်ချက်နှင့်အညီ သင့်လျော်သော ကာလအထိ ခံစားခွင့်။

၈။ ထို့အပြင် ပြည်တွင်း၏ ရောင်းချသောပစ္စည်းပေါ်တွင် ကုန်သွယ်ခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန်ပါ တပါတည်း လျှောက်ထားအပ်ပါသည်။

၉။ သို့ပါ၍အဆိုပြုချက်တင်ပြထားသည့် "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အောက်ပါစာရွက်စာတမ်းများကို ပူးတွဲလျှက် လေးစားစွာ တင်ပြလျှောက်ထားအပ်ပါသည်-

(၁) ရင်းနှီးမြှုပ်နှံလိုသူ့ အဆိုပြုချက်ပုံစံ

(၂) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

(၃) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များ

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyinindustries.com

လိုအပ်သော အစီအမံများပြုလုပ်၍ လုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅. နိုင်ငံတော် အစိုးရမှပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)။ နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ်။ လ။ ( )ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မသို့ လုပ်ငန်းဆောင်ရွက်ချက်နှင့် ပါတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း၊

Your Excellency,

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့ "ချမ်းယဉ် စက်မှုလက်မှုကုမ္ပဏီလီမိတက်" အနေဖြင့်အများနှင့် မသတ်ဆိုင်သောကုမ္ပဏီကို ဖွဲ့စည်းတည်ထောင် ထားပြီးဖြစ်ပါ၍ အောက်ဖော်ပြပါ ထုတ်လုပ်မှုလုပ်ငန်းများကို ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌါနမှ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ် ၁၄၈၃/၂၀၁၂-၂၀၁၃ ကိုရရှိထားပြီး ဖြစ်ပါသည်။

၁.၁. လူသုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း

၁.၂. အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း

၁.၃. ဆောက်လုပ်ရေးလုပ်ငန်းသုံးကုန်ပစ္စည်းများနှင့်သုတ်ဆေးများထုတ်လုပ်ခြင်း

၁.၄. အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကိုရောင်းချခြင်း

၂. အပိုဒ်(၁)ပါ လုပ်ငန်းရည်ရွယ်ချက်များအနက် နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေးပစ္စည်း မျိုးစုံကို ထုတ်လုပ်သည့်လုပ်ငန်း လုပ်ကိုင်မည်ဖြစ်ပါသည်။

၃. အဆိုပါကုမ္ပဏီသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော ကုမ္ပဏီဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။ လုပ်ငန်းဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ ထုတ်ပြန်ထားသော တည်ဆဲဥပဒေ၊အမိန့်၊ ညွှန်ကြားချက်များနှင့်အညီတိကျစွာလိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

Chan Yin Industries Co., Ltd
228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyinindustries.com

၄။ မြေယာနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယည် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ လ၊ ( )ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှပ်စစ်ဓါတ်အား သုံးစွဲမှုနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

Your Excellency,

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ 'ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်' သည် လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူ၍သုံးစွဲမည်ဖြစ်ပြီး ဓါတ်အားပြတ်တောက်မှုရှိခဲ့ပါက ကိုယ်ပိုင်မီးစက်ဖြင့် လုပ်ငန်းကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်းနေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ လ၊ ( )ရက်

အကြောင်းအရာ။ ။ **ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်းကာလဖော်ပြခြင်း။**

Your Excellency,

ကျွန်တော်တို့၏ 'ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်'သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၀) အရ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ အဆိုပြုထားသောလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်းကာလမှာ (၁၀) နှစ်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

225-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်၊

ရက်စွဲ၊ ။၂၀၁၃ ခုနှစ်၊ လ၊ ( )ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မသို့ ကုန်ကြမ်းတင်သွင်းရန် နိုင်ငံခြားငွေလဲလှယ်ခြင်းနှင့် ပါတ်သတ်၍ ကတိဝန်ခံချက်ပေးပို့ခြင်း၊

Your Excellency.

ကျွန်တော်တို့ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေးပစ္စည်းမျိုးစုံ ထုတ်လုပ်သည့်စက်ရုံတည်ဆောက်ပြီး ပြည်တွင်း၌မြန်မာကျပ်ငွေဖြင့်သာဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။ သို့သော် ကုန်ကြမ်းများမှာ ပြည်ပမှဝယ်ယူတင်သွင်းရမည်ဖြစ်ပါ၍ နိုင်ငံခြားငွေလိုအပ်မည်ဖြစ်သောကြောင့် ၄င်းလိုအပ်သည့်နိုင်ငံခြားငွေအား နိုင်ငံခြားပို့ကုန်ရှိသောကုမ္ပဏီများမှ ပြန်လည်လဲလှယ်ဝယ်ယူကာ တင်သွင်းမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်းနေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yang
01-637689, 09-421147688, 09-73810062
127, Building 4/9, Room D, Sawbwargyi Gone, Insein, Yangon
01-646755, 09-73810061
www.changyunindustries.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)။ နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ်။ လ။ ( )ရက်

အကြောင်းအရာ။ **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မသို့ ပါတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း။**

Your Excellency,

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" အနေဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင် ပါတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။ စက်ရုံအတွင်းကျန်းမာရေးနှင့်ညီညွတ်သော သန့်စင်ခန်းများလုံလုံလောက်လောက်စီမံထားရှိခြင်း၊ ရေသုံးစွဲရန်ရေများ အလုံအလောက်ရရှိအောင် စီစဉ်ထားခြင်း၊ အမှိုက်စွန့်ပစ်ရန်နေရာများ စနစ်တကျ စီမံထားရှိခြင်း၊ စက်ရုံပတ်ဝန်းကျင်အား အမြဲသန့်ရှင်းအောင်စီမံဆောင်ရွက်ထားခြင်း၊ ရေဆိုးများအား စနစ်တကျ စွန့်ပစ်စေခြင်းနှင့် ရေနုတ်မြောင်းများ ရေစီးရေလာကောင်းမွန်စေပြီး အနံ့အသက်များကင်းစင်အောင် အစဉ်ပြုလုပ်ဆောင်ရွက်သွားမည့် အစီအစဉ်များကို စနစ်တကျစီမံထားရှိမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏စက်ရုံသည် ဝန်ထမ်းများအတွက် ပြင်ပဆေးခန်းဖြင့်ဆက်သွယ်၍ ပုံမှန်ဝန်ထမ်းများ၏ကျန်းမာရေးစစ်ဆေးစောင့်ရှောက်ပေးခြင်း၊ စွန့်ပစ်ပစ္စည်းများကို စနစ်တကျစွန့်ပစ်နိုင်အောင်စီမံဆောင်ရွက်ထားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း

(မန်နေးဂျင်းဒါရိုက်တာ)

ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)။ နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ်။ လ။ ( )ရက်

အကြောင်းအရာ။ **။ဝန်ခံကတိပြုခြင်း။**

Your Excellency,

ကျွန်တော်တို့၏ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်"တွင်, ခန့်အပ်ထားသော ဝန်ထမ်းများအနက်မှ တစ်နှစ်လျှင် လစာငွေကျပ် (၁,၄၄၀,၀၀၀) နှင့်အထက်ရရှိသော ဝန်ထမ်းများ၏ လစာငွေအပေါ်တွင် ဝင်ငွေခွန်ပေးဆောင်ခြင်းကို ကျွန်တော်တို့ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11" street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၃ ခုနှစ်၊ လ၊ ( )ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သည့်ကုမ္ပဏီဖြစ်ကြောင်း ကတိဝန်ခံချက်ပေးပို့ခြင်း။**

Your Excellency,

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့၏ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်"သည် မြန်မာနိုင်ငံသားများသာပိုင်ဆိုင်သည့်ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားသား အစုရှယ်ယာများ ပါဝင်ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
(မန်နေးဂျင်းဒါရိုက်တာ)
ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ် (၃၂)။ နေပြည်တော်၊

ရက်စွဲ။ ။၂၀၁၃ ခုနှစ်။ လ။ ( )ရက်

အကြောင်းအရာ။ ။ " Chan Yin Industries Co., Ltd" မှလိုအပ်သည့် လုပ်ငန်းသုံးယာဉ်များအား ပြည်တွင်း၏၌ပင် နိုင်ငံခြားငွေဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

Your Excellency,

ကျွန်တော်တို့၏ "ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်" မှလိုအပ်သည့် လုပ်ငန်းသုံးမော်တော်ယာဉ်များအား ပြည်တွင်း၌ပင် နိုင်ငံခြားငွေဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း

(မန်းနေးဂျင်းဒါရိုက်တာ)

ချမ်းယဉ် စက်မှုလက်မှု ကုမ္ပဏီလီမိတက်



# Chan Yin Industries Co., Ltd

228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637689, 09-73810062
www.changyunindustries.com

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ။ 2- 5 -2013

အကြောင်းအရာ။ ။ပါတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန သဘောထား မှတ်ချက်နှင့်အညီပြင်ဆင်တင်ပြရန်ကိစ္စ။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (၃၀-၃-၂၀၁၃) ရက်စွဲပါစာအမှတ် ရက-၆(က)။မ-၁၃၁၄။၂၀၁၃(၄၀၇၄)-ဃ

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့ Chan Yin Industries Co., Ltd. သည် နိုင်ငံတကာအဆင့်မီ ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုး ထုတ်လုပ်သည့်လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပတ်ဝန်း ကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) ကုန်ကြမ်း ပစ္စည်းများနှင့် ကုန်ထုတ်လုပ်မှုလုပ်ငန်းစဉ်များကြောင့် မြေ၊ ရေ၊ လေနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေးထိခိုက်မှုမဖြစ်ပေါ်စေရေးအတွက် ကုန်ကြမ်းနှင့် ကုန်ချောပစ္စည်းများအား စနစ်တကျ သိုလှောင်ထားမည့် အစီအမံများကို ရေးဆွဲထားပြီး စက်ရုံအတွင်း လေဝင်လေထွက်စနစ် (ventilation system) ကောင်းမွန်စေရေးကို အဓိကထား၍တည်ဆောက်သွားမည်ဖြစ်ပါသည်။

(ခ) စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ် ပစ္စည်းနှင့် စွန့်ပစ်အရည်များ စွန့်ပစ်ရာတွင် စက်မှုဝန်ကြီးဌာနမှ ပြဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်မည်ဖြစ်ပြီး စွန့်ပစ်အရည်၊ ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံများ။ စီမံချက်များကို ရေးဆွဲတင်ပြပေးထားပါသည်။

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်မည့် အစီရင်ခံစာကို ပူးတွဲတင်ပြပေးထားပါသည်။

(ဃ) ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ပူးတွဲတင်ပြ ပေးထားပါသည်။

Chan Yin Industries Co., Ltd
228-231, 11th street, Yangon Industrial Park, Mingalardon Garden city, Yangon.
01-637680, 09-73810062 :
www.changyunindustries.com

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနအသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးဝင်းကိုလတ် (ခ) ဇန်မိုင်း
မန်နေးဂျင်းဒါရိုက်တာ
ချမ်းယင် စက်မှုလက်မှု ကုမ္ပဏီလီမိတက်

မိတ္တူကို –

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

## ၁။ လုပ်ငန်းတည်နေရာ

၂၂၈-၂၃၁၊ ၁၁ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံဥယျာဉ်မြို့တော်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

အနီးဆုံးလူနေရပ်ကွက်မှာ ရွှေပေါက်ကံ (၁၁)ရပ်ကွက်ဖြစ်ပြီး အနောက်တောင်ဘက် ကိုက် (၅၀၀) အကွာတွင်တည်ရှိပါသည်။

အနီးဆုံးမြေပေါ် ရေအရင်းအမြစ်မှာ လုပ်ငန်းတည်နေရာ၏မြောက်ဘက် ကိုက် (၅၅၀) အကွာတွင်တည်ရှိပါသည်။



လုပ်ငန်းတည်နေရာပြပုံ

လတ္တီကျူ **16°56'47.50" မြောက်**

လောင်ဂျီကျူ **96°12'0.23" ရှေ့**

## ၂။ လုပ်ငန်းအကြောင်း

အထက်ဖော်ပြပါတည်နေရာတွင် ချမ်းယဉ်စက်မှုလက်မှုလုပ်ငန်းမှ စတီးလက်စတီး (Stainless steel) ပိုက်အမျိုးမျိုး၊ စတီးလက်စတီးပြားများ၊ အရောင်စတီးအမိုးပြားများ၊ မြားတန်းများ၊သွပ်ကြမ်းခင်းများ စသည်ဆောက်လုပ်ရေးပစ္စည်းအမျိုးမျိုးအား ထုတ်လုပ်သည့် စက်ရုံတည်ဆောက် လုပ်ကိုင်မည်ဖြစ်ပါသည်။

## အသုံးပြုမည့် ကုန်ကြမ်းအမျိုးအစား

စတိမ်းလက်စတီးလိပ်များ (Stain steel strip in coil)
စတိမ်းလက်စတီးပြားများ (Stainless steel sheet)
အရောင်စတီးအမိုးပြားများ (Prepainted GI steel sheet in coil )
သွပ်လိပ်များ (GI Steel sheet in coil, GI steel strip coil )
အာဂွန်ဓါတ်ငွေ့ (Argon gas )

## ရေလိုအပ်ချက်

ထုတ်လုပ်မှုလုပ်ငန်းစဉ်တွင်ရေလိုအပ်မှုပမာဏမှ မြင့်မားမှု မရှိပေ။ စတိမ်းလက်စတီးပိုက်များ ထုတ်လုပ်ခြင်းတွင်သာ ရေလိုအပ်ပြီး ကျန်ပစ္စည်းများထုတ်လုပ်မှုတွင် ရေလိုအပ်မှုမရှိပေ။ စတိမ်းလက်စတီးပိုက်ထုတ်လုပ်ရာတွင် ပိုက်များအား ရေဖြန်းခြင်းဖြင့် အအေးခံပြီး ၄င်းရေများအား ပြန်လည်လည်ပါတ်အသုံးပြုခြင်းဖြင့် ရေပမာဏအများအပြား လိုအပ်မည် မဟုတ်ပေ။ စတိမ်းလက်စတီးပိုက်များအား အရောင်တင်ခြင်း အဆင့်တွင်လည်း ဂါလန် ၂၀၀ ခန့်ဆန့်သည် ရေကန်လိုအပ်လိမ့်မည်ဖြစ်သည်။ ၄င်းရေကန်အား စတိမ်းလက်စတီးပိုက်များ အရောင်တင်စက်မှထွက်ရှိလာသော လေအတွင်းရှိ အမှုန်များအား ရေဖြင့်စစ်ယူခြင်းဖြစ်သည်။




စတိမ်းလက်စတီးပိုက်ထုတ်လုပ်ခြင်းလုပ်ငန်းစဉ်အဆင့်ဆင့်

- လုပ်ငန်းကြောင့်ထွက်ရှိလာသည့် စွန့်ပစ်ပစ္စည်းများအားရေထဲသို့တိုက်ရိုက်စွန့်ပစ်ပါက ရေထုညစ်ညမ်းနိုင်ခြင်း

- Generator များ၊ လုပ်ငန်းသုံးမော်တော်ယာဉ်များ စက်ဆီ၊ချောဆီများ ယိုစိမ့်၍သော်လည်းကောင်း၊ စွန့်ပစ်စက်ဆီ၊ချောဆီများ ရေထဲသို့ရောက်ရှိခြင်းဖြင့် ရေထုညစ်ညမ်းနိုင်ခြင်း

### ပါတ်ဝန်းကျင်အသံ ညစ်ညမ်းမှုဖြစ်စေနိုင်သည့် အကြောင်းအရင်းများ

- စက်လည်ပါတ်ခြင်းကြောင့်ဖြစ်ပေါ်နိုင်သည့်ဆူညံသံများ
- Generator လည်ပါတ်ခြင်းကြောင့်ဖြစ်ပေါ်နိုင်သည့်ဆူညံသံများ
- သတ္တုများဖြတ်တောက်ရာမှ ဖြစ်ပေါ်နိုင်သည့်ဆူညံသံများ
- မော်တော်ယာဉ်များ ဝင်ထွက်သွားလာရာမှ ဆူညံသံများ

### လုပ်ငန်းလည်ပါတ်ရာမှထွက်ရှိနိုင်သည့်စွန့်ပစ်ပစ္စည်းများ၊ အညစ်အကြေးများ

၁. ဓါတ်ငွေ့များ
၂. ထုတ်ပိုးပစ္စည်းများ (သစ်သား၊ ပလပ်စတစ်၊ သွပ်)
၃. သတ္တုအတိုအစများ (သွပ်၊ စတီး)
၄. စက်ဆီ၊ချောဆီများ
၅. စားကျွင်းစာကျန်များ
၆. စွန့်ပစ်ရေများ

## ၄။ ပါတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan)

လုပ်ငန်းလည်ပါတ်မှုကြောင့်ဖြစ်ပေါ်နိုင်သည့်ပါတ်ဝန်းကျင်သက်ရောက်မှုများကိုကာကွယ်ရန်အောက်ပါစီမံချက်များကို ဆောင်ရွက်ရန်လိုအပ်ပါသည်။

### လေထုညစ်ညမ်းမှုမှကာကွယ်ရန်

### ဖုန်ပါဝင်မှုကာကွယ်ရန်စီမံချက်များ

- လေထုထဲတွင်ဖုန်များပါဝင်မှုကို ကာကွယ်ရန်အတွက် စက်ရုံဝန်းအတွင်းလမ်းများကို ကွန်ကရစ်လမ်းများခင်းခြင်း၊
- ကွန်ကရစ်လမ်းများတွင် ယာဉ်အဝင်အထွက်များလာခြင်းကြောင့် ဖုန်များလာပါကရေလောင်းခြင်း၊
- စက်ရုံဝန်းအတွင်း အသုံးပြုသည့် မြေကြီးနေရာများအားကွန်ကရစ်ပြင်လောင်းထားခြင်း၊

- စတီးပိုက်များဖြတ်တောက်၊ အရောင်တင်သည့်စက်များတွင် လေစုပ်စက်များတပ်ဆင်ထားပြီး အမှုန်များပါဝင်သည့် လေကိုသီးသန့် ရေကန်ထဲသို့ဖြတ်၍ အမှုန်များအားရေဖြင့်စစ်ယူခြင်း

## ဓါတ်ငွေ့ပါဝင်မှုများမှ ကာကွယ်ရန်

- ထုတ်လုပ်မှုအတွက်အသုံးပြုမည့် စက်များတွင် Generator များမှ အပ အခြားစက်များသည် မီးခိုးထွက်မည့်စက်များပါဝင်ခြင်းမရှိသောကြောင့် ကာဗွန်ဒိုင်အောက်ဆိုဒ်၊ ကာဗွန်မိုနောဆိုဒ်များ လေထဲတွင်ပြန့်နှံ့နိုင်သည့် ပမာဏမှာနည်းပါးပါသည်။ ကိုလည်း အစိုးရလျှပ်စစ်ဓါတ်အားပျက်တောက်သည့်အခါမှ သာလျှင်မောင်းနှင်မည်ဖြစ်ပါသောကြောင့် ကာဗွန်ဒိုင်အောက်ဆိုဒ်၊ ကာဗွန်မိုနောဆိုဒ်ထွက်ရှိမည့် နှုန်းမှာအလွန်နည်းပါးမည်ဖြစ်သည်။
- စတီးပိုက်များထုတ်လုပ်(ဂဟေဆက်ခြင်း)ရာတွင်အသုံးပြုသည့်သည့်ဓါတ်ငွေ့သည် တစ်တန်လျှင် ၁၆ ကီလိုဂရမ်အလေးချိန်ရှိသော ပမာဏကိုသာအသုံးပြုသည့်စက်ကို သုံးခြင်းဖြင့် ဓါတ်ငွေ့ပမာဏလျှော့ချခြင်း၊
- ပိုက်ဂဟေဆက်ခြင်းမှ ထွက်ရှိလာသော ဓါတ်ငွေ့အန္တရာယ်ကိုကာကွယ်ရန် စက်ရုံ၏လေဝင်လေထွက်ကိုကောင်းမွန်စေရန်တွက်ချက်ဆောက်လုပ်မည်ဖြစ်ပါသည်
- Generatorမောင်းနှင်လည်ပါတ်ခြင်းကြောင့်လည်းကောင်း၊ လုပ်ငန်းသုံးယာဉ်များမှသော်လည်းကောင်း၊ ထွက်ရှိလာသော carbon dixide ပမာဏကိုလျော့ချ ကာကွယ်ရန် ၄င်းစက်များအား အသုံးပြုသည့် အချိန်ကိုမှတ်သား၍ ပုံမှန်စစ်ဆေးပြုပြင်ခြင်းများ၊ စက်ဆီချောဆီလဲလှယ်ခြင်းများအားပြုလုပ်ခြင်း၊
- စက်ရုံပါတ်ဝန်းကျင်နှင့်စက်ရုံဝန်းအတွင်း စိမ်းလန်းစိုပြေပြီး လေကောင်းလေသန့် ရရှိစေရန် သစ်ပင်ပန်းမန်များစိုက်ပျိုးပေးခြင်း

## စွန့်ပစ်ပစ္စည်းများအားစီမံခြင်း

- စက်ရုံမှထွက်ရှိမည့် ထုတ်ပိုးပစ္စည်းများနှင့်သတ္တုအတိုအစများအားလုံးသည် ပြန်လည်အသုံးပြုနိုင်သာ ပစ္စည်းများဖြစ်သောကြောင့် အရောင်ဖြင့်ခွဲခြားထားသော အမှိုက်ပုံးများတွင်း နေရာတကျစွန့်ပစ်စေမည်ဖြစ်သည်။
- ၄င်းထွက်ရှိလာသောစွန့်ပစ်ပစ္စည်းများအားပြန်လည်အသုံးပြုသည့် နေရာသို့ပို့ဆောင်ရောင်းချခြင်း၊
- ဝန်ထမ်းများအား စွန့်ပစ်ပစ္စည်းများ နည်းနိုင်သမျှနည်းအောင် ထားရှိတက်စေရန် သင်ကြားထားခြင်း
- ထွက်ရှိလာသော အညစ်အကြေးများအနံ့အသန့်များအား လေထုထဲရောက်ရှိမှုမှကာကွယ်ရန် စားကျွင်းစာကျန်များအား အဖုံးရှိသောအမှိုက်ပုံးများ ဖြင့်သီးသန့်စွန့်ပစ်စေခြင်း၊
- စာကြွင်းစားကျန်များ အားအခြားသော အစားအစာထုတ်ပိုးသည့် အခြားပြန်လည်အသုံးပြုနိုင်သည့် စွန့်ပစ်ပစ္စည်းများနှင့်ခွဲခြားစွန့်ပစ်စေခြင်းဖြင့် ၄င်းစားကြွင်းစာကျန်များအား တိရိစ္ဆာန်အစာဖြင့်ပြန်လည်အသုံပြုနိုင်ခြင်း
- ရေမြောင်းများပိတ်ဆို့ပြီး ရေစီးဆင်းမှုပိတ်ဆို့ကာအနံ့နံခြင်းများမရှိစေရန် အမြဲတစေရှင်းလင်းစေခြင်း

## ရေထုညစ်ညမ်းမှုမှ ကာကွယ်ရန် အစီအစဉ်များ

- စက်ရုံမှထွက်ရှိသော စွန့်ပစ်ရေဆိုးများကိုလည်း စက်မှုဇုန်မှ သတ်မှတ်သည့် စည်းကမ်းအတိုင်း စနစ်တကျစွန့်ပစ်စေခြင်း၊
- စက်ရုံလေစုပ်ပန်ကာမှထွက်လာသည့် လေစစ်ရေကန်များအား အနဲထိုင်ရန်ကန်နှင့် သန့်စင်ပြီးရေကိုပြန်လည်အသုံးပြုရန်အကြည် ကန်နှစ်ကန်သီးခြားပြုလုပ်ထားခြင်း
- ၄င်းကန်များကိုရေလှယ်သည့်ပိုက်တွင် Filter များတပ်ဆင်ထားခြင်း
- စက်သုံးဆီကန်များယိုစိမ့်မှုမရှိစေရန် ပုံမှန် စစ်ဆေးကာထိမ်းသိမ်းပြုပြင်ပေးခြင်း
- ယိုစိမ့်မှုရှိပါက ပါတ်ဝန်းကျင်ရေမြောင်းများထဲသို့မရောက်ရှိရန် စက်သုံးဆီကန်တွင် အတားအဆီးများပြုလုပ်ထားခြင်း
- မော်တော်ယာဉ်များ၊ Generator များပြုပြင် ထိမ်းသိမ်းလုပ်ငန်းများတွင် စက်သုံးဆီ၊ချောဆီများယိုဖိတ်မှုမရှိစေရန် ဝန်ထမ်းများအားအသိပညာပေးခြင်း၊ Drip trays များအသုံးပြုလဲလှယ်ခြင်း၊
- စွန့်ပစ်စက်သုံးဆီ၊ချောဆီများအား ပုံးများဖြင့်ထည့်၍ ပြန်လည်အသုံးပြုသည့်နေရာသို့ ပို့ဆောင်ခြင်း
- ရေမြောင်းများတွင် ရေဆိုးများ၊အမှိုက်များ ပိတ်ဆို့မှုမရှိစေရန်အတွက် သန့်ရှင်းရေးဝန်ထမ်းများအား ခန့်အပ်၍ နေ့စဉ်ရှင်းလင်းစေခြင်း
- ဝန်ထမ်းများအတွက် ရေအိမ်သန့်စင်ခန်းများကိုလည်း အလုံအလောက်စီမံထားရှိပြီး Septic Tank (အညစ်အကြေးကန်)ကိုလည်း စနစ်တကျ တည်ဆောက်ထားရှိခြင်း

ရေထုညစ်ညမ်းမှုမှ ကာကွယ်ရန်အထက်ပါအစီအစဉ်များအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ လက်ရှိ ပါတ်ဝန်းကျင်ရှိ မြေပေါ်နှင့် မြေအောက်ရေထု၏ အရည်အသွေးအားလည်း မှတ်တမ်းတင်ထားမည်ဖြစ်သည်။

## အသံဆူညံမှုများမှ ကာကွယ်ရန်

လုပ်ငန်းတည်ရှိသည့်နေရာသည် စက်မှုဇုန်အတွင်းတည်ရှိသောကြောင့် ပုံမှန်စက်မှုဇုန်တစ်ခု၏ ဆူညံမှုနှုန်းမှာ လက်ရှိတည်ရှိလျက်ရှိပါသည်။ အသံဆူညံမှုနှုန်းလျော့နည်းစေရန် ခေတ်မီစက်ကရိယာသုံးစက်များကိုသာ အသုံးပြုမည်ဖြစ်သည်။ လုပ်ငန်းတွင် အသုံးပြုမည့် စက်များသည် roller များအသုံးပြု၍ပုံသွင်းခြင်း၊ ဟိုက်ဒရောလစ် (Hydraulic) စက်များ အသုံးပြုဖြတ်တောက်ခြင်းများကြောင့် အသံဆူညံမှုနှုန်း မမြင့်မားပေ။ ထိုပြင်၄င်း စက်များ ချို့ယွင်းချက်ကြောင့် မလိုအပ်သည့်ဆူညံသံများ မဖြစ်ပေါ်စေရန် ပုံမှန်စစ်ဆေးပြုပြင်ခြင်းများ ဆောင်ရွက်မည်ဖြစ်သည်။

လူအများအနားယူသည့်အချိန် မလိုလားအပ်သော အသံဆူညံမှုများမဖြစ်စေရန် စက်လည် ပါတ်မည့်အချိန်ကိုလည်း နံနက် ၈း၀၀ မှ ည ၅း၃၀ ထိသာသတ်မှတ် လည်ပါတ် မည်ဖြစ်သည်။ စက်ရုံတွင်းအသံဆူညံမှုနှုန်းအား ပြင်ပသို့ရောက်ရှိမှု လျော့နည်းအောင်လည်း အင်ဂျင်နီယာများဖြင့်တွက်ချက်၍ အဆောက်အဦများအားဆောက်လုပ်သွားမည်ဖြစ်ပါသည်။

အသံညစ်ညမ်းမှုမှ ကာကွယ်ရန်အထက်ပါအစီအစဉ်များအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ လက်ရှိ ပါတ်ဝန်းကျင်နေရာများ၏ဆူညံမှုနှုန်းများအားမှတ်တမ်းတင်ထားမည်ဖြစ်သည်။

## ၅။ ဝန်ထမ်းများအား အသိပညာပေးသင်တန်းများပို့ချထားခြင်း

ဝန်ထမ်းများအား ပါတ်ဝန်းကျင်ထိမ်းသိမ်းမှု၊ သဘာဝအရင်းအမြစ်များအား ချွေတာသုံးစွဲနိုင်စေရန် သင်တန်းများ အသိပညာပေးပို့ချသွားမည်ဖြစ်သည်။ ပညာပေးပို့ချမှုများတွင် အောက်ပါခေါင်းစဉ်နှင့်သက်ဆိုင်သည် အကြောင်းအရာများအား ထည့်သွင်း ပို့ချပေးသွားမည်ဖြစ်သည်။

- ပါတ်ဝန်းကျင်ထိမ်းသိမ်းရေး နှင့်သဘာဝအရင်းအမြစ်များထိမ်းသိမ်းရေး
- လုပ်ငန်းခွင်အန္တရာယ်ကင်းရှင်းရေးနှင့် လုံခြုံရေး
- မီးဘေးအန္တရာယ် ကာကွယ်ရေး

ထိုအပြင် စက်ရုံအတွင်းအပြင် ပါတ်ဝန်းကျင် နေရာများတွင်လည်း အမှိုက်များ၊ စွန့်ပစ်ပစ္စည်းများကို စနစ်တကျစွန့်ပစ်ရန်နှင့် သဘာဝအရင်းအမြစ်များအားမဖြုန်းတီးရန် အသိပညာပေးဆိုင်းဘုတ်များကိုလည်း သင့်လျော်သည့် နေရာတိုင်းတွင် တပ်ဆင်သတိပေးထားမည် ဖြစ်ပါသည်။

## ၇။ လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေး

- စတီမ်းလက်စတီးထုတ်လုပ်ရေးတွင်လုပ်ကိုင်သည့်ဝန်ထမ်းများအား Metal Fume Fever ကာကွယ်နိုင်ရန် နှာခေါင်းအားဖုန်းအုပ်သည် မျက်နှာဖုံးများ ဝတ်ဆင်စေခြင်း
- စက်ရုံအဆောက်အဦးအား လေဝင်လေထွက်ကောင်းစေရန်နှင့် အလင်းရောင် ကောင်းစွာရရှိစေမည့် ပုံစံဖြင့်ဆောက်လုပ်ခြင်း
- အန္တရာယ်ရှိသည့်နေရာများကိုထင်ရှားစွာ အဝါရောင်စည်းများဖြင့် ဖော်ပြထားခြင်း
- စက်ရုံဝန်ထမ်းများအတွက် ယူနီဖောင်းအပြည့်အစုံနှင့် အကာအကွယ်ပစ္စည်းများ (ရောင်ပြန်အကျီ၊ ဖိုင်ဘာဦးထုပ်၊ ရှူးဖိနပ်၊ လက်အိပ်များ)၊ စားဖိုဆောင်ဝန်ထမ်းများအတွက် (ဗစမသည များ၊ ဦထုပ်များ)၊
- လုပ်ငန်းခွင်အတွင်း မတော်တဆထိခိုက်ဒဏ်ရာရပါက ရှေးဦးသူနာပြုစုနိုင်ရန် လုံခြုံရေးများ၊ အုပ်ချုပ်သူများအား ရှေးဦးသူနာပြုသင်တန်းများပို့ချပေးခြင်း၊
- လုပ်ငန်းခွင်အတွင်း မတော်တဆထိခိုက်ဒဏ်ရာရပါက အသုံးပြုနိုင်ရန် ်မျအ ငေ် ဘသထ များအလုံအလောက်ထားရှိပေးခြင်း
- လုပ်ငန်းခွင်အတွင်း မတော်တဆထိခိုက်ဒဏ်ရာရပါက ဆေးရုံဆေးခန်းများသို့ အချိန်မီပို့ဆောင်ပေးနိုင်ရန် ကားတစ်စီးအမြဲတမ်းအရန်သင့်ထားရှိခြင်း

အထက်ပါအချက်များအား လိုတ်နာလုပ်ဆောင်သွားမည့်အပြင် နိုင်ငံတော်မှပြဋ္ဌါန်းထားသည့် ပါတ်ဝန်းကျင်ထိမ်းသိမ်းရေးဥပဒေ၊ ပြဋ္ဌါန်ချက်များနှင့် ဆက်လက်ထုတ်ပြန် ပြဋ္ဌါန်းမည့် ပါတ်ဝန်းကျင် ထိမ်းသိန်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ဆက်လက် သတ်မှတ်ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား တိကျစွာလိုတ်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ**
**ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်**
**[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]**

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် ၊
ရက်စွဲ၊

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ –

| | |
|---|---|
| (က) အမည် | ဦးဝင်းကိုလတ် (ခ) ဖန်မိုင်း |
| (ခ) အဖအမည် | ဦးဖီးလစ် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/လမန(နိုင်) ၁၂၄၁၉၈ |
| (ဃ) နေရပ်လိပ်စာ | ၂၈၊ အေဝမ်းကွန်ဒို၊ အေဝမ်းလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| (င) လူမျိုး၊ဘာသာ | တရုတ်၊ ကချင်၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | ချမ်းယဉ်စက်မှုလက်မှုကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | ကုန်ထုတ်လုပ်မှုလုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | ၂၂၈/၂၂၉ ၁၁ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံဥယျာဉ်မြို့တော်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် (၁) ____________ (၂) ____________

(ခ) အဖအမည် (၁) ____________ (၂) ____________

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁) ____________ (၂) ____________

(ဃ) နေရပ်လိပ်စာ (၁) ____________ (၂) ____________

(င) လူမျိုး၊ ဘာသာ (၁) ____________ (၂) ____________

(စ) အဖွဲ့အစည်းအမည် ____________

(ဆ) လုပ်ငန်းအမျိုးအစား ____________

